**PARADISO CINEMAS COMPANY LIMITED**

**( Hmawbi Cinema Project )**

**Statement of Tax Contribution To The State**

**( Expressed in US$ )**

| Sr. No. | Financial Year | Commercial Tax | Corporate Tax | Remarks |
|---|---|---|---|---|
| 1 | 1 | 4 | 5 | 6 |
| 1 | YR.1 | 15,996 | - | |
| 2 | YR.2 | 15,996 | - | |
| 3 | YR.3 | 15,996 | - | |
| 4 | YR.4 | 15,996 | - | |
| 5 | YR.5 | 15,996 | - | |
| 6 | YR.6 | 18,281 | 27,229 | |
| 7 | YR.7 | 18,281 | 26,917 | |
| 8 | YR.8 | 18,281 | 26,600 | |
| 9 | YR.9 | 18,281 | 26,277 | |
| 10 | YR.10 | 18,281 | 25,949 | |
| 11 | YR.11 | 22,851 | 54,927 | |
| 12 | YR.12 | 22,851 | 54,927 | |
| 13 | YR.13 | 22,851 | 54,927 | |
| 14 | YR.14 | 22,851 | 54,927 | |
| 15 | YR.15 | 22,851 | 54,927 | |
| 16 | YR.16 | 22,851 | 54,927 | |
| 17 | YR.17 | 22,851 | 54,927 | |
| 18 | YR.18 | 22,851 | 54,927 | |
| 19 | YR.19 | 22,851 | 54,927 | |
| 20 | YR.20 | 22,851 | 54,927 | |
| Total Amount | - | 399,894 | 682,245 | |

# PARADISO CINEMAS COMPANY LIMITED

## ( Hmawbi Cinema Project )

## Financial Evaluation Indicators

### FINANCIAL EVALUATION

The following financial undicators should be reflected according to the datas & informations received,

a. The statement of Financial Position reflected income, expenditures and benefits for ten years of the whols factory;

b. The statement of cash flow reflected Surplus for ten years for the whole factory;

c. The Profit & Cash Surplus indicate performance of the business as Working Capital.

### ( 1 ) OPERATION RATIO

| Financial Year | Income ( US$ ) | Expenditure ( US$ ) | Operating Ratio | Net Profit ( US$) | Net Profit Ratio |
|---|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 | 6 |
| YR.1 | 335,911 | 238,637 | 71.04 | 97,274 | 28.96 |
| YR.2 | 335,911 | 241,714 | 71.96 | 94,197 | 28.04 |
| YR.3 | 335,911 | 244,917 | 72.91 | 90,994 | 27.09 |
| YR.4 | 335,911 | 249,144 | 74.17 | 86,767 | 25.83 |
| YR.5 | 335,911 | 252,663 | 75.22 | 83,248 | 24.78 |
| YR.6 | 383,898 | 256,702 | 66.87 | 127,197 | 33.13 |
| YR.7 | 383,898 | 257,949 | 67.19 | 125,950 | 32.81 |
| YR.8 | 383,898 | 259,218 | 67.52 | 124,681 | 32.48 |
| YR.9 | 383,898 | 260,508 | 67.86 | 123,390 | 32.14 |
| YR.10 | 383,898 | 261,820 | 68.20 | 122,078 | 31.80 |
| YR.11 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.12 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.13 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.14 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.15 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.16 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.17 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.18 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.19 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| YR.20 | 479,873 | 237,313 | 49.45 | 242,560 | 50.55 |
| Average | 8,397,774 | 4,896,398 | 58.31 | 3,501,376 | 41.69 |

## PARADISO CINEMAS COMPANY LIMITED

**( Hmawbi Cinema Project )**

**Financial Evaluation Indicators**

**(2) BREAK EVEN POINT**

**INVESTMENT AMOUNT :** 511,725 ( US$ )

( Expressed in US$)

| Financial Year<br>Pre operating period | Profit after tax | Plus | Depreciation | Preliminary Expenses | | Yearly Total | Accumulated Cash Total |
|---|---|---|---|---|---|---|---|
| YR.1 | 79,653 | + | 29,827 | - | = | 109,480 | 109,480 |
| YR.2 | 76,637 | + | 29,827 | - | = | 106,464 | 215,944 |
| YR.3 | 73,498 | + | 29,827 | - | = | 103,325 | 319,268 |
| YR.4 | 69,356 | + | 29,827 | - | = | 99,183 | **418,452** |
| YR.5 | 65,907 | + | 29,827 | - | = | **95,734** | 514,186 |
| YR.6 | 80,053 | + | 29,827 | - | = | 109,880 | 624,066 |
| YR.7 | 79,136 | + | 29,827 | - | = | 108,963 | 733,029 |
| YR.8 | 78,204 | + | 29,827 | - | = | 108,031 | 841,060 |
| YR.9 | 77,255 | + | 29,827 | - | = | 107,082 | 948,142 |
| YR.10 | 76,291 | + | 29,826 | - | = | 106,117 | 1,054,259 |
| YR.11 | 161,486 | + | - | - | = | 161,486 | 1,215,745 |
| YR.12 | 161,486 | + | - | - | = | 161,486 | 1,377,231 |
| YR.13 | 161,486 | + | - | - | = | 161,486 | 1,538,717 |
| YR.14 | 161,486 | + | - | - | = | 161,486 | 1,700,203 |
| YR.15 | 161,486 | + | - | - | = | 161,486 | 1,861,690 |
| YR.16 | 161,486 | + | - | - | = | 161,486 | 2,023,176 |
| YR.17 | 161,486 | + | - | - | = | 161,486 | 2,184,662 |
| YR.18 | 161,486 | + | - | - | = | 161,486 | 2,346,148 |
| YR.19 | 161,486 | + | - | - | = | 161,486 | 2,507,634 |
| YR.20 | 161,486 | + | - | - | = | 161,486 | 2,669,121 |

**Different USD :** 93,274

$$\frac{93,274 \times 12}{95,734} : 11.69$$

**BEP of Company : ( 4 ) year and ( 11 ) months including pre-operating period**

**PARADISO CINEMAS COMPANY LIMITED**

**( Hmawbi Cinema Project )**

**Financial Evaluation Indicators**

**( 3 ) Calculation of IRR**

**INVESTMENT AMT.** **511,725** **( US$ )**

**( Exchange Rate is 1-00 US$ is equal to MMK 1,250-00 )**

| | ( US$ ) | Discount 11% | Net Present Value 11% | Discount 10% | Net Present Value 10 % |
|---|---|---|---|---|---|
| **INVESTMENT** | 511,725 | 0.9009 | 461,014 | 0.9091 | 465,205 |
| **Project period** | **Surplus Cash** | | | | |
| YR.1 | 63,976 | 0.8116 | 51,924 | 0.8264 | 52,872 |
| YR.2 | 58,685 | 0.7312 | 42,910 | 0.7513 | 44,091 |
| YR.3 | 53,157 | 0.6587 | 35,016 | 0.6830 | 36,307 |
| YR.4 | 45,616 | 0.5935 | 27,071 | 0.6209 | 28,324 |
| YR.5 | 39,489 | 0.5346 | 21,112 | 0.5645 | 22,290 |
| YR.6 | 50,823 | 0.4817 | 24,479 | 0.5132 | 26,080 |
| YR.7 | 49,906 | 0.4339 | 21,656 | 0.4665 | 23,282 |
| YR.8 | 48,974 | 0.3909 | 19,145 | 0.4241 | 20,770 |
| YR.9 | 48,025 | 0.3522 | 16,914 | 0.3855 | 18,516 |
| YR.10 | 47,060 | 0.3173 | 14,931 | 0.3505 | 16,494 |
| YR.11 | 98,447 | 0.2858 | 28,140 | 0.3186 | 31,368 |
| YR.12 | 98,447 | 0.2575 | 25,351 | 0.2897 | 28,516 |
| YR.13 | 98,447 | 0.2320 | 22,839 | 0.2633 | 25,924 |
| YR.14 | 98,447 | 0.2090 | 20,576 | 0.2394 | 23,567 |
| YR.15 | 98,447 | 0.1883 | 18,537 | 0.2176 | 21,425 |
| YR.16 | 98,447 | 0.1696 | 16,700 | 0.1978 | 19,477 |
| YR.17 | 98,447 | 0.1528 | 15,045 | 0.1799 | 17,706 |
| YR.18 | 98,447 | 0.1377 | 13,554 | 0.1635 | 16,097 |
| YR.19 | 98,447 | 0.1240 | 12,211 | 0.1486 | 14,633 |
| YR.20 | 98,447 | 0.1117 | 11,001 | 0.1351 | 13,303 |
| | | | 459,111 | | 501,044 |
| | | | 1,902 | | (35,840) |

$$IRR \quad \frac{N1}{N1 - N2} \times (r2 - r1)$$

$$IRR = \frac{1,902}{1,902 \quad - \quad (35,840)} \quad x \ 1$$

$$IRR \quad \frac{1,902}{1,902 \quad + \quad 35,840} \quad x \ 1$$

$$IRR = \frac{1,902 \ x \ 1}{37,742}$$

**IRR = 11 + 0.05%**

**IRR = 11.05 %**

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

၁။ Paradiso Cinemas Co., Ltd. သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ အကွက်အမှတ် (၅၈၄) ရွာသစ်ကွင်း၊ ဦးပိုင်အမှတ် (၆/၃) ရှိ မြေဧက (ဂ.၉၂) တွင် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသားဖက်စပ်ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ ရုပ်ရှင်လုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိုင်ခုံ (၃၁၆) ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်းလုပ်ငန်း စီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသား ၆ဝ% နှင့် နိုင်ငံခြားသား ၄ဝ% ရင်းနှီးမြှုပ်နှံလုပ်ကိုင်မည့် လုပ်ငန်းဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင်လုပ်ဆောင်သော အခြေခံစီးပွားရေးအဆောက်အအုံကိုအထောက်အကူပြုသောလုပ်ငန်းအပြင် အများပြည်သူအပန်းဖြေရန်လိုအပ်သော ဖျော်ဖြေရေးဝန်ဆောင်မှုလုပ်ငန်းတစ်ခုဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်ုပ်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် ဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သောစီမံချက်များချမှတ်၍လည်းကောင်း၊ မီးဘေးအန္တရာယ်နှင့်ပတ်သက်၍ ကြိုတင်ကာကွယ်မှုလုပ်ငန်းများ ဆောင်ရွက်သွားမည့်အပြင် သဘာဝဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအတွက်လည်း စီမံချက်များချမှတ် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ချမှတ်ထားသော ဥပဒေ၊

နည်းဥပဒေ၊ စည်းမျဉ်း/စည်းကမ်း၊ လုပ်ထုံး/လုပ်နည်းများနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) Paradiso Cinemas Co., Ltd. သည် ပြည်ပမှ စက်ပစ္စည်းများ ဝယ်ယူတင်သွင်းရာ၌ ဈေးနှုန်းနှင့် အရည်အသွေးကောင်းမွန်သော ပစ္စည်းများကိုသာတင်သွင်း၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(င) လုပ်ငန်းများဆောင်ရွက်ရာမှ နိုင်ငံခြားငွေဖြင့်ရရှိသော ဝင်ငွေများရှိခဲ့ပါက မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် (သို့မဟုတ်) မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ် (သို့မဟုတ်) နိုင်ငံခြားငွေများကို တရားဝင် ရောင်းဝယ် ခွင့်ပြုမိန့်ရရှိထားသော ပုဂ္ဂလိကဘဏ်များ၌ နိုင်ငံခြားငွေစာရင်းဖွင့်လှစ်၍ မပျက်မကွက် ပေးသွင်းသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ကုမ္ပဏီ၏နိုင်ငံခြားငွေစာရင်း၌ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှသတ်မှတ် ခွင့်ပြုထားသည့် နိုင်ငံခြားငွေလဲလှယ်ခြင်းဥပဒေ၊ နည်းဥပဒေများနှင့် အခါအားလျော်စွာပြဋ္ဌာန်းထားသော အမိန့်ညွှန်ကြားချက်များအတိုင်း လဲလှယ်ပြီး လုပ်ငန်းအတွက်လိုအပ်သည့် အသုံးစရိတ်များနှင့် လုပ်အားခများအား ပေးဆောင်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ဆ) ထို့အပြင် ကျွန်ုပ်တို့၏ Paradiso Cinemas Co., Ltd. သည် နိုင်ငံတော်အစိုးရမှပြဋ္ဌာန်းထားသော ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံး/လုပ်နည်းများ၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့် စည်းကမ်းများအား တိကျစွာလိုက်နာ ဆောင်ရွက်၍ မိမိတို့၏ စီးပွားရေးလုပ်ငန်းအား တိုးတက်ကြီးပွားရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ထပ်ဆင့် ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co., Ltd.

PARADISO CINEMAS

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /
ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်ပုံစံအားတင်ပြခြင်း။

၁။ Paradiso Cinemas Co., Ltd. သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ အကွက်အမှတ် (၅၈၄) ရွာသစ်ကွင်း၊ ဦးပိုင်အမှတ် (၆/၃) ရှိ မြေဧက (၀.၉၂) တွင် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသားဖက်စပ်ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ ရုပ်ရှင်လုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိုင်ခုံ (၃၁၆) ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုပါသဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက် တင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ရာတွင် ခေတ်မီစက်ပစ္စည်းကိရိယာများနှင့် လိုအပ်သောအခြား အထောက်အကူပြု စက်ပစ္စည်းများအားပြည်ပမှ တင်သွင်း၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေမှုလုပ်ငန်းအား (၆၀%) ကို မြန်မာနိုင်ငံ သားရင်းနှီးမြှုပ်နှံမှုအဖြစ်လည်းကောင်း၊ (၄၀%) ကို နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုအဖြစ်လည်းကောင်း ဖက်စပ်ရင်းနှီး မြှုပ်နှံကာ အဆိုပြုတင်ပြထားသောကုမ္ပဏီဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ Paradiso Cinemas Co., Ltd. လုပ်ငန်းအောင်မြင်အောင် ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများလည်း အပြည့်အဝရရှိမည် ဖြစ်ပါသည်။

No 20, Pearl Street, Golden Valley Avenue, Bahan Township, Yangon, Myanmar
Tel: 95-1-549478, 95-1-541411, 95-1-541167

၄။ ထို့ပြင် အဆိုပါလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေနိုင်ခြင်း၊ နည်းပညာများ တိုးတတ်စေခြင်း၊ မြန်မာနိုင်ငံ၏ ဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းစဉ်များ၊ ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများအတွက် အထောက်အကူ ပြုနိုင်ခြင်းနှင့် နိုင်ငံတော်၏ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်း စသည့် အကျိုးကျေးဇူးများကိုလည်း ရရှိစေနိုင်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co., Ltd.

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံလုပ်ကိုင်လိုသည့် ကာလ ( Investment Period ) တင်ပြခြင်း။

၁။ Paradiso Cinemas Co., Ltd. သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ အကွက်အမှတ် (၅၈၄) ရွာသစ်ကွင်း၊ ဦးပိုင်အမှတ် (၆/၃) ရှိ မြေဧက (၀.၉၂) တွင် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသားဖက်စပ်ရင်းနှီးမြှုပ်နှံမှု ပြုလုပ်၍ ရုပ်ရှင်လုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိုင်ခုံ (၃၁၆) ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်းလုပ်ငန်း စီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသား ၆၀% နှင့် နိုင်ငံခြားသား ၄၀% ရင်းနှီးမြှုပ်နှံလုပ်ကိုင်မည့် လုပ်ငန်းဖြစ်ပါသည်။

၁) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကောင်မရှင်မှ ခွင့်ပြုခဲ့ပါကစီမံကိန်းလုပ်မည့်မြေနေရာတွင် နှစ်ပေါင်း( ၂၀ ) အား နှစ်ရှည်ရင်းနှီးမြှုပ်နှံမှုကာလ ( Investment Period ) အဖြစ် သတ်မှတ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co., Ltd.

PARADISO CINEMAS

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေအားတင်ပြခြင်း။

၁။ Paradiso Cinemas Co., Ltd. သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ အကွက်အမှတ် (၅၈၄) ရွာသစ်ကွင်း၊ ဦးပိုင်အမှတ် (၆/၃) ရှိ မြေဧက (၀.၉၂) တွင် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသားဖက်စပ်ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ ရုပ်ရှင်လုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိုင်ခုံ (၃၁၆) ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုပါသဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက် ဟင်ပြထားသည့် ကုမ္ပဏီတစ်ခု ဖြစ်ပါသည်။

၂။ ထိုင်ခုံ (၃၁၆) ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်းလုပ်ငန်း လုပ်ကိုင်ရန်အတွက် လိုအပ်သော ဝန်ထမ်းများကို ပြည်တွင်းရှိအတတ်ပညာရှင်များနှင့် လုပ်သားအင်အားများကိုအသုံးပြုပြီး လုပ်ကိုင် သွားမည်ဖြစ်ပါသည်။ ထို့ကြောင့် ဖော်ပြပါလုပ်ငန်းဆောင်ရွက်ခွင့် ရရှိပါက မြန်မာနိုင်ငံသား ဝန်ထမ်းများ (၄၈) ဦးခန့် အလုပ်အကိုင်များရရှိကြမည် ဖြစ်ပါသည်။

၃။ နောင်အချိန်တွင်ရုပ်ရှင်ရုံများ (၁၀၀) ခန့် တိုးချဲ့တည်ဆောက်သွားမည်ဖြစ်ပြီး ထိုသို့လုပ်ငန်းတိုးချဲ့ဆောင်ရွက်ပြီးပါက မြန်မာနိုင်ငံသားဝန်ထမ်းများပိုမို၍ အလုပ်အကိုင်ရရှိကြပြီး တဘက်တလမ်းမှလည်း နိုင်ငံတော်၏ ဘဏ္ဍာငွေ တိုးတက်ရေးကို ဝန်ထမ်းများ၏ လစာပေါ်တွင်ဝင်ငွေခွန်ထမ်းဆောင်ခြင်းဖြင့်လည်း နိုင်ငံအတွက်အခွန်ဘဏ္ဍာများ တိုးတက်ရရှိနိုင်ကြောင်းလေးစားစွာဖြင့် တင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co., Ltd.

No 20 Pearl Street Golden Valley Avenue Bahan Township Yangon Myanmar
Tel: 95-1-549478 95-1-541411 95-1-541167

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ ။ ။ ဝန်ခံကတိပြုခြင်း။

အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံလုပ်ကိုင်ခွင့်ပြုမည်ဆိုပါက ကျွန်တော်တို့၏ Paradiso Cinemas Co., Ltd. သည် နိုင်ငံတော်မှ ဖြန့်ဖြူးသည့်လျှပ်စစ်ဓါတ်အားမရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ထားရှိ၍ လိုအပ်သောလျှပ်စစ်မီးအား ရယူဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co., Ltd.

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ ။ ။ ဝန်ခံကတိပြုခြင်း။

အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ခွင့်ပြုမည်ဆိုပါက ကျွန်တော်တို့၏ Paradiso Cinemas Co., Ltd. တွင် တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းအားလုံးအား ၄င်းတို့ရရှိသည့် လုပ်ခလစာ တစ်နှစ်ရငွေ စုစုပေါင်းသိန်းလေးဆယ့်ရှစ်သိန်းအထက် ရရှိသော ဝန်ထမ်းများ၏ လစာဝင်ငွေခွန်ကို ၄င်းတို့ရရှိသည့် လစာမှဖြတ်တောက်၍ ပြည်တွင်းခွန်များဦးစီးဌာနသို့ မပျက်မကွက် ပေးသွင်းသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win
Managing Director/CEO
Paradiso Cinemas Co., Ltd.

No 20, Pearl Street, Golden Valley Avenue, Bahan Township, Yangon, Myanmar
Tel: 95-1-549478, 95-1-541411, 95-1-541167

PARADISO CINEMAS

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။ ကုမ္ပဏီဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများအား တင်ပြခြင်း။

အထက်အကြောင်းအရာနှင့် ပတ်သက်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ကျွန်တော်တို့၏ Paradiso Cinemas Co., Ltd. သည် အလုပ်လုပ်ကိုင်တာဝန်ထမ်းရွက်နေကြသည့် ဝန်ထမ်းနှင့်အလုပ်သမားများအတွက် အောက်ဖော်ပြပါကဏ္ဍများအလိုက် အလုပ်သမားသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင်သာယာရေး တို့အတွက် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းအား လိုအပ်သလိုဆောင်ရွက်နိုင်ရန် တင်ပြအပ်ပါသည်။

(၁) အလုပ်သမားကြို/ပို့ယာဉ်ဖြင့် ဝန်ထမ်း၊အလုပ်သမားများ အလုပ်တက်၊ ဆင်းနိုင်ရန်အတွက် ကြို/ပို့ဖယ်ရီကားများစီစဉ်ထားရှိပါမည်။ လုပ်ငန်းမှစီစဉ်ပေးသည့် ကြို/ပို့ဖယ်ရီစီးကြသော အလုပ်သမားများအပေါ် ဖယ်ရီကားခကောက်ခံခြင်းမရှိဘဲ အခမဲ့ပို့ဆောင်ပေးမည်ဖြစ်ပါသည်။

(၂) ကုမ္ပဏီဝန်ထမ်း၊ အလုပ်သမားများအနေဖြင့် အလုပ်ဆင်းရက်မှန်ကန်ပါကလုပ်ငန်းအားအာရုံစူးစိုက်လုပ်ကိုင်ခြင်းကို အသိအမှတ်ပြုသည့်အနေဖြင့် ရက်မှန်ဆုကြေးထုတ်ပေးပါမည်။

(၃) လုပ်ငန်းရှိဝန်ထမ်းအလုပ်သမားများ အချိန်ပိုဆင်းရပါကတစ်နာရီအတွက်လုပ်အားခငွေကြေး (၂) ဆတွက်ချက်ပေးပါမည်။ လုပ်ငန်းလိုအပ်ချက်အရ ညဉ့်နက်အထိလုပ်ရပါကအစားအသောက်ကျွေးမွေးခြင်းစီစဉ်များဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။

(၄) ကုမ္ပဏီတွင်ခန့်အပ်တာဝန်ပေးမည့်ဝန်ထမ်းများ၊ အလုပ်သမားများအားလုံးအတွက် လုပ်ငန်းခွင်ကွင်းစိတ်ဓာတ်တက်ကြွညီညွတ်ရန်အတွက် တူညီဝတ်စုံများ(Uniform) အခမဲ့ထုတ်ဝေပေးမည်ဖြစ်ပါသည်။

(၅) ကုမ္ပဏီတွင်ရှေးဦးသူနာပြုဆေးသေတ္တာထားရှိမည်ဖြစ်ပြီး၊ ထိခိုက်ဒဏ်ရာရရှိပါကသက်ဆိုင်ရာနယ်မြေအလိုက်ဖွင့်လှစ်ထားသည့် လူမှုဖူလုံရေးဆေးခန်းသို့စေလွှတ်၍ ဆေးဝါးကုသမှုခံယူပါမည်။

(၆) ၂၀၁၂ခုနှစ်လူမှုဖူလုံရေးဥပဒေအရ ကုမ္ပဏီရှိဝန်ထမ်း၊ အလုပ်သမားများအားလုံးအား လူမှုဖူလုံရေးဥပဒေအရ လူမှုရေး၊ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ငွေကြေးအကျိုးခံစားခွင့်များပိုမိုရရှိစေရန် သက်ဆိုင်ရာလူမှုဖူလုံရေးအဖွဲ့၌ မှတ်ပုံတင်သွားမည်ဖြစ်ပါသည်။ လူမှုဖူလုံရေးထည့်ဝင်ငွေနှင့်ပတ်သက်၍ အလုပ်ရှင်မှထည့်ဝင်ရမည့် ထည့်ဝင်ကြေးအား အလုပ်ရှင်မှထည့်ဝင်သွားမည့်အပြင် အလုပ်သမားများမှထည့်ဝင်ရမည့် ထည့်ဝင်ကြေးများကို ၎င်းတို့၏လစာမှ ဖြတ်တောက်ပေးသွင်းထည့်ဝင်သွားမည်ဖြစ်ပါသည်။

(၇) ကုမ္ပဏီတွင်တာဝန်ထမ်းဆောင်သည့်ဝန်ထမ်း၊ အလုပ်သမားများအနေဖြင့်မိမိတို့မိသားစုအတွင်းသာရေး၊ နာရေးကိစ္စများပေါ်ပေါက်ပါကသာရေး၊နာရေးကူညီထောက်ပံ့ငွေများထောက်ပံ့ပေးအပ်သွားမည်ဖြစ်ပါသည်။

(၈) ကုမ္ပဏီတွင်တာဝန်ထမ်းဆောင်သည့်ဝန်ထမ်း၊ အလုပ်သမားများအနေဖြင့်လုပ်ငန်းခွင်အတွင်းအေးချမ်းသာယာစွာ အလုပ်လုပ်နိုင်ရန်အတွက် အဆောက်အအုံအတွင်း၌ လေဝင်လေထွက်ကောင်းအောင် စီမံထားရှိမည်ဖြစ်ပါသည်။ ထို့အပြင် လေစုပ်ပန်ကာများ၊ လေတွန်းပန်ကာများဖြင့်အဆောက်အအုံအတွင်းရှိ လေထုများအား သန့်ရှင်းအောင် ဆောင်ရွက်မည် ဖြစ်ပါသည်။

(၉) ကုမ္ပဏီတွင်အလုပ်လုပ်နေကြသည့်ဝန်ထမ်းများ၊ အလုပ်သမားများသန့်ရှင်းသောရေသောက်သုံးနိုင်ရန်အတွက် လုပ်ငန်းရှိအဝီစိတွင်းမှရေအား ရေသန့်စက်နှင့်ရေစစ်ဘူးများအတွင်း ဖြတ်သန်းသို့လှောင်ပြီး သောက်ရေသိုလှောင်၍ အလုပ်သမားများအား သောက်ရေသန့်သောက်သုံးရန် စီစဉ်ထားရှိမည်ဖြစ်ပါသည်။

(၁၀) ကုမ္ပဏီကွင်းအလုပ်လုပ်ကြရသည့်ဝန်ထမ်း၊အလုပ်သဟားများအနက်မှ ရှိးသား၍အလုပ်ကြိုးစားလုပ်ကိုင်သည့်ကျွမ်းကျင်သူများနှင့်လုပ်ငန်းခွင်အတွင်း အင်တိုက်အားတိုက်ပါဝင်ဆောင်ရွက်လေ့ရှိသည့် ရပ်ဝေးနယ်များမှအလုပ်ရုံတွင်လာရောက်လုပ်ကိုင်ရသည့်အလုပ်သမားများအားကုမ္ပဏီမှလုပ်ငန်းတည်ရှိရာဇရိယာတဝိုက်တွင်နေထိုင်ရန်"အဆောင်များ" ဆောင်ရွက်ပေးပါမည်။

(၁၁) ကုမ္ပဏီတွင် ဝန်ထမ်းအလုပ်သမားများ အားလပ်ချိန်တွင် စာပေအသိပညာနှင့် ဗဟုသုတရရှိစေရန် စာကြည့်တိုက်တစ်ခု ထူထောင်ထားရှိမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co., Ltd.

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ် ( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

စာအမှတ် ။ PCCL / MIC / 2016-17 /

ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။ ရုပ်ရှင်ပြသခြင်းလုပ်ငန်းမှ ထွက်ရှိလာသော အမှိုက်များ (Wastes) များအား သိမ်းဆည်းမည့် အစီအစဉ်။

၁။ Paradiso Cinemas Co., Ltd. သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ အကွက်အမှတ် (၅၈၄) ရွာသစ်ကွင်း၊ ဦးပိုင်အမှတ် (၆/၃) ရှိ မြေဧက (၀.၉၂) တွင် မြန်မာနိုင်ငံသား ၆၀% နှင့် နိုင်ငံခြားသား ၄၀% ဖက်စပ်ရင်းနှီးမြှုပ်နှံမှုပြုလုပ်လျက် ရုပ်ရှင်လုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိုင်ခုံ (၃၁၆) ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသ ဖျော်ဖြေခြင်းလုပ်ငန်း စီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။

ကျွန်ုပ်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် ဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သောစီမံချက်များချမှတ်ရာ၌ သဘာဝပတ်ဝန်းကျင် သန့်ရှင်းသာယာရေးနှင့် ကျန်းမာသော ပတ်ဝန်းကျင်ထူထောင်ရေးအတွက် အဓိကအကြောင်းအရာအချက်တစ်ခုဖြစ်သော ရုပ်ရှင်ရုံပြသခြင်း လုပ်ငန်းမှ နေ့စဉ်ထွက်ရှိလာမည့် အမှိုက်များ (ရုပ်ရှင်ကြည့်ပရိသတ်များမှ စွန့်ပစ်ခဲ့သော စားကြွင်းစားကျန်များ၊ မုန့်များ ထုပ်ပိုးသော ပလပ်စတစ်များ၊ စက္ကူများ) အား စနစ်တကျ စွန့်ပစ်နိုင်ရန်အတွက် အောက်ဖော်ပြပါအတိုင်း အမှိုက်များအား စနစ်တကျ သိမ်းဆည်းသွားမည်ဖြစ်ပါသည်။

(၁) ကုမ္ပဏီ၏ရုပ်ရှင်ရုံအတွင်း ရုပ်ရှင်ကြည့်ပြည်သူအပေါင်းမှ စွန့်ပစ်ခဲ့သောအမှိုက်များအနက် စားကြွင်းစားကျန်များအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးအဖွဲ့မှ ရောင်းချပေးသော အစိမ်းနရောင်အမှိုက်အိတ်များဖြင့် နေ့စဉ်ပွဲချိန်ပြီးဆုံးချိန်တိုင်း ထုပ်ပိုးသိမ်းဆည်း၍ အမှိုက်ကန်နေရာတွင်စနစ်တကျ စုစည်းထားရှိမည်ဖြစ်ပါသည်။

(၂) ယင်းစားကြွင်းစားကျန် အမှိုက်အိတ်များအား သက်ဆိုင်ရာ မြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ အမှိုက်သိမ်းကားများ လှည့်လည်အမှိုက်သိမ်းသည့်အချိန်တွင် ယင်းကားများဖြင့် စွန့်ပစ်မည်ဖြစ်ပါသည်။ အကယ်၍ အမှိုက်သိမ်းကားများ လှည့်လည်ခြင်းအခက်အခဲများရှိပါက သက်ဆိုင်ရာမြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ လမ်းညွှန်ချက်ဖြင့် အမှိုက်စွန့်ပစ်ရမည့်နေရာသို့ ကုမ္ပဏီမှ မိမိအစီအစဉ်ဖြင့် နေ့စဉ်သွားရောက်စွန့်ပစ်မည် ဖြစ်ပါသည်။

(၃) နေ့စဉ်ရုပ်ရှင်ပြသချိန်များမှထွက်ရှိလာသည့် ပလပ်စတစ်ထုပ်ပိုးခွံများအား စနစ်တကျ အိတ်ကြီးများဖြင့် သိမ်းဆည်း၍ ပလပ်စတစ်လုပ်ငန်းလုပ်ဆောင်သည့် လုပ်ငန်းများအသုံးပြုရန်အတွက် ပြန်လည်ရောင်းချရန် စုဆောင်းထားမည်ဖြစ်ပါသည်။ ပလပ်စတစ်အမှိုက်အဟောင်းများရောင်းရငွေသည် လုပ်ငန်း၏ အခြားဝင်ငွေအဖြစ် ရရှိမည်ဖြစ်ပါသည်။

(၄) နေ့စဉ်ရုပ်ရှင်ပြသချိန်များမှထွက်ရှိလာသည့် မုန့်ထုပ်ပိုးသောစက္ကူအိတ်ခွံများ၊ စက္ကူစများအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးအဖွဲ့မှ ရောင်းချပေးသော အစိမ်းနရောင်အမှိုက်အိတ်များဖြင့် စနစ်တကျ သိမ်းဆည်း၍ သက်ဆိုင်ရာ မြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ အမှိုက်သိမ်းကားများ လှည့်လည်အမှိုက်သိမ်းသည့် အချိန်တွင် ယင်းကားများဖြင့် စွန့်ပစ်မည်ဖြစ်ပါသည်။ အကယ်၍ အမှိုက်သိမ်းကားများ လှည့်လည်ခြင်းအခက်အခဲများ ရှိပါက သက်ဆိုင်ရာမြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ လမ်းညွှန်ချက်ဖြင့် အမှိုက်စွန့်ပစ်ရမည့်နေရာသို့ ကုမ္ပဏီမှ မိမိအစီအစဉ်ဖြင့် နေ့စဉ်သွားရောက်စွန့်ပစ်မည် ဖြစ်ပါသည်။

(၅) ရုပ်ရှင်ရုံပိုင်ကားများမှစွန့်ပစ်ရည်သည် ၎င်းကားများ၌အသုံးပြုသည့် အင်ဂျင်ဝိုင်နှင့်ဂီယာဝိုင် အဟောင်းများဖြစ်၍ ယင်းတို့ကိုအသစ်ဖြင့်လဲလှယ်ပြီးပါက ပလပ်စတစ်ပုံးများဖြင့် ယိုပျောင်ထားရှိမည်ဖြစ်ပါသည်။ ထို့နောက် အင်ဂျင်ဝိုင်နှင့် ဂီယာဝိုင်အဟောင်းဈေးကွက်သို့ လုပ်ငန်းအနေဖြင့်အခြားဝင်ငွေရရှိစေရန် ရောင်းချမည် ဖြစ်ပါသည်။

(၆) ယာဉ်စက်ယန္တရားဆေးကြောခြင်းမှထွက်ရှိသည့်ရေများအားရေမြောင်းများအတွင်းသို့လည်းကောင်း စွန့်ပစ်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win
Managing Director/CEO
Paradiso Cinemas Co., Ltd.

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ )၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့။

စာအမှတ် ။ PCCL/MIC/2016-17/
ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။**

အထက်အကြောင်းအရာ နှင့် ပတ်သက်၍ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်ုပ်တို့၏ Paradiso Cinemas Co.,Ltd သည် ထိုင်ခုံ (၃၁၆)ခုံ ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁)ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသ ဖျော်ဖြေခြင်းလုပ်ငန်း စီမံကိန်းများဆောင်ရွက်သည့် **လုပ်ငန်းခွင်ဧရိယာအတွင်း မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအနေဖြင့် အောက်ဖော်ပြပါအတိုင်း** ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) ရေဂါလံ (၂၅၀၀)ဆန့်ရေသိုလှောင် ကန် (၁) ကိုတည်ဆောက်ထားရှိမည်ဖြစ်ပါသည်။

(၂) လုပ်ငန်းအဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန်ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင့်သင့်ထားရှိမည်ဖြစ်ပါသည်။

(၃) မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်နိုင်ရေးအတွက် ဝန်ထမ်းအလုပ်သမားများသည် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်း၊ မီးငြိမ်းသတ်ခြင်းတို့နှင့်ပတ်သက်၍ ဗဟုသုတရရှိရန်အလို့ငှာ မီးသတ်ဦးစီးဌာနမှ ကျွမ်းသူများအား ဖိတ်ကြား၍ သင်တန်းပို့ချမည်ဖြစ်ပါသည်။

(၄) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်းအတွက် စည်းကမ်းချက်များချမှတ်ထားပြီး ယင်းတို့ကိုဝန်ထမ်းများ တိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်းစီမံထားရှိပါမည်။

(၅) ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် မီးငြိမ်းသတ်ခြင်းနှင့် မီးဘေးအန္တရာယ်ကာကွယ်ရေးသင်တန်းများကို တက်ရောက်ခွင့်ပြု၍ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါသည်။

o.20, Pearl Street, Golden Valley Avenue, Bahan Township, Yangon, Myanmar
Tel: 95-1-549478, 95-1-541411, 95-1-541167

(၆) လုပ်ငန်းခွင်အတွင်း၊ ရုံးအဆောက်အဦးအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကျပ်စွာ ပဟားမြစ်ထားရှိမည်ဖြစ်ပြီး ဆေးလိပ်သောက်သုံးရန်နေရာအား သတ်မှတ်ပေးမည်ဖြစ်ပါသည်။

(၇) လျှပ်စစ်နှင့် ပတ်သက်သည့် မီးဘေးအန္တရာယ်များ မဖြစ်ပေါ်စေရန် မီးကြိုးသွယ်တန်းမှုများ၊ မီးခလုတ်ခုံ တပ်ဆင်မှုများ၊ မီးအားမြှင့်စက်များနှင့် လျှပ်စစ်ဓာတ်အားအသုံးပြု၍ လည်ပတ်ရသော လူသုံးအိမ်သုံးပစ္စည်းများအား အချိန်ဇယားများချမှတ်၍ အမြဲမပြတ်စစ်ဆေးသွားမည်ဖြစ်ပါသည်။

(၈) လုပ်ငန်းခွင်အတွင်းသန့်ရှင်းသပ်ရပ်စေရန် အမှိုက်များအားစနစ်တကျပုံးဖြင့် ထားရှိရန်၊ မီးလောင်လွယ်သည့် မြက်ပင်နှင့် ကိုင်းပင်တို့အား ခုတ်ထွင်ရှင်းလင်းထားမည်ဖြစ်ပါသည်။

(၉) လုပ်ငန်းဆောင်ရွက်မည့်ဧရိယာအတွင်း မီးဘေးအန္တရာယ်ပေါ်ပေါက်ပါက အလွယ်တကူမီးငြိမ်းနိုင်ရန်အတွက် လူသွား၊ ယာဉ်သွားလမ်းများ ထားရှိမည်ဖြစ်ပါသည်။

(၁၀) ဧရိယာအလိုက် ထားရှိရန်လိုအပ်သည့် မီးသတ်ဆေးဗူးများအား ရုပ်ရှင်ပြသသည့်ရုံးတွင်းဧရိယာ ခန်းမ၊ ရုံးခန်း၊ မီးစက်၊ ဆီသိုလှောင်သည့်နေရာများ၌ စနစ်တကျသတ်မှတ်အရေအတွက်များ အတိုင်း ထားရှိမည်ဖြစ်ပါသည်။

<u>မီးငြိမ်းသတ်ခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်းစီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။</u>

(၁) လုပ်ငန်းရှိဝန်ထမ်းအလုပ်သမားဦးရေပေါ် မူတည်၍ မီးငြိမ်းသတ်ရေးအဖွဲ့၊ ပစ္စည်းသယ်ယူရေးအဖွဲ့နှင့် ပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့များ ဖွဲ့စည်း၍တာဝန်ပေးအပ်မည်ဖြစ်ပါသည်။

(၂) ဖွဲ့စည်းပြီးသော အဖွဲ့များအနေဖြင့် တစ်ဖွဲ့ချင်းလုပ်ဆောင်ရမည့် အချက်အလက်များအား တိကျစွာ ထုတ်ပြန်ထားမည်ဖြစ်ပါသည်။

(၃) အဖွဲ့များအနေဖြင့် ချမှတ်ထားသော မိမိတို့ဆောင်ရွက်ရမည့် အချက်များအား မီးဘေးကိစ္စပေါ်ပေါက်ပါက လွယ်ကူလျင်မြန်စွာဆောင်ရွက်နိုင်ရန်အတွက် မီးငြိမ်းသတ်ရေး အစမ်းလေ့ကျင့်ခြင်း အစီအစဉ်အား သက်ဆိုင်ရာ မြို့နယ်မီးသတ်ဦးစီးဌာနနှင့် ပူးပေါင်းဆောင်ရွက်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Maung Win
Managing Director/CEO
Paradiso Cinemas Co.,Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထဲရေးဝန်ကြီးဌာန
မီးသတ်ဦးစီးဌာန

စာအမှတ်၊ [illegible] / ၁၀၀ / ၅၂ / ဦး ၁
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊စက်တင်ဘာလ [illegible] ရက်

Paradiso Cinemas Co.,Ltd
အမှတ်(၅၈၄)၊ရွာသစ်ကွင်းလမ်း
တပ်ကုန်းကြီးကျေးရွာအုပ်စု၊မှော်ဘီမြို့နယ်

အကြောင်းအရာ။ **အဆောက်အဦမီးဘေးလုံခြုံရေး (Fire Safety)အတွက် စစ်ဆေးခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ အထပ်မြင့်အဆောက်အဦ မဆောက်လုပ်မီ မီးဘေးလုံခြုံရေးအတွက် Paradiso Cinemas Co.,Ltd ၊ မှော်ဘီမြို့နယ်မှ တင်ပြလာသော အဆောက်အဦပုံစံအား မီးသတ်ဦးစီး ဌာနမှ စစ်ဆေးပြီး ဖြစ်ပါသည်။ မီးဘေးလုံခြုံရေးအတွက် လိုက်နာဆောင်ရွက်ရန် ညွှန်ကြားချက်(၁၂)ချက်ကို ဤစာနှင့်အတူ ပူးတွဲပေးပို့ပါသည်။

၂။ ညွှန်ကြားချက်အတိုင်းပြည့်စုံစွာ လျှောက်ထားသူဘက်မှ လိုက်နာဆောင်ရွက်သွားမည်ဆိုပါက အောက်ဖော်ပြပါ အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဤဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်-

(က) လျှောက်ထားသူအမည် — Paradiso Cinemas Co.,Ltd

(ခ) အဆောက်အဦဆောက်မည့်နေရာ — အမှတ်(၅၈၄)၊ရွာသစ်ကွင်းလမ်း တပ်ကုန်းကြီးကျေးရွာအုပ်စု၊မှော်ဘီမြို့နယ်

(ဂ) အဆောက်အဦအမျိုးအစား — **Steel Structure**(၁)ထပ် (ရှပ်ရှင်ရုံ)

၃။ ဤအဆောက်အဦအတွက် ပူးတွဲပါ မီးဘေးလုံခြုံရေးညွှန်ကြားချက်အတိုင်း ဆောင်ရွက်ပြီးစီးချိန်တွင် မီးဘေးလုံခြုံရေးစစ်ဆေးထောက်ခံချက်လက်မှတ် **Fire Safety Certificate** ထုတ်ပေးရန် မီးသတ်ဦးစီးဌာနသို့ လျှောက်ထားရမည်ဖြစ်ပါသည်။

၄။ ထိုသို့လျှောက်ထားလာသည့်အခါ မီးသတ်ဦးစီးဌာနမှ ဆောက်လုပ်ပြီးအဆောက်အဦအား လုပ်ထုံးလုပ်နည်းနှင့်အညီ ထပ်မံစစ်ဆေးပြီး ပူးတွဲပါမီးဘေးလုံခြုံရေးဆိုင်ရာညွှန်ကြားချက်(၁၂)ချက်အား ပြည့်စုံစွာလိုက်နာဆောင်ရွက်လျှင် မီးဘေးလုံခြုံရေးစစ်ဆေးထောက်ခံချက် **Fire Safety Certificate** အား ထုတ်ပေးသွားမည်ဖြစ်ပါသည်။

၅။ မီးဘေးလုံခြုံရေးညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန် ပျက်ကွက်မှုတစ်စုံတစ်ရာ စစ်ဆေးတွေ့ရှိပါက မီးဘေးလုံခြုံရေးလက်မှတ် **Fire Safety Certificate** ထုတ်ပေးခြင်းမပြုပါ၊ ထို့အပြင် မီးသတ်တပ်ဖွဲ့ ဥပဒေအရ အရေးယူခြင်းခံရမည်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ကျော်သူရ၊ ညွှန်ကြားရေးမှူး )

မိတ္တူကို
ဌာနမှူး၊ အင်ဂျင်နီယာဌာန(အဆောက်အအုံ)၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊
အမှတ်(၂)တိုင်းဒေသကြီး/ပြည်နယ်မီးသတ်ဦးစီးရုံးများကွပ်ကဲမှုဌာနခွဲ၊
တိုင်းဒေသကြီးမီးသတ်ဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီး၊
မြောက်ပိုင်းခရိုင်မီးသတ်ဦးစီးမှူး၊အင်းစိန်မြို့နယ်၊
မြို့နယ်မီးသတ်ဦးစီးမှူး၊မှော်ဘီမြို့နယ်၊
မျှောစာတွဲ၊ လက်ခံစာတွဲ။

ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ ခြံအမှတ် (၆/၃)၊ ရွာသစ်ကွင်းလမ်း၊ အမှတ် (၅၈၄) တွင် ဆောက်လုပ် မည့် Steel Structure (၁)ထပ် ရုပ်ရှင်ရုံအဆောက်အဦအတွက် မီးသတ်ဦးစီးဌာန၏ မီးဘေး လုံခြုံမှုနှင့် အရေးပေါ် လွတ်မြောက်မှုဆိုင်ရာ အကြံပြုချက်သဘောထားများ

**အရေးပေါ်လွတ်မြောက်မှုဆိုင်ရာလုပ်ငန်းများ (Means of Egress)**

၁။ အဆောက်အဦ အပြင်ဘက်ပတ်လမ်း (Access Way) သည် မီးသတ်ကားများ ဝင်နိုင်သည့် (၁၈)ပေကျယ်သည့်လမ်းဖြစ်ပြီး မီးသတ်ကားများရပ်သည့်နေရာ လမ်းခံနိုင်ရည်သည် တန်(၄၀)ခံနိုင်ရမည်။

၂။ အဆောက်အဦ၏လှေကား (stairs)များအား အကျယ်(၃½)ပေ အသားတင် ဆောက်လုပ်ပေးရန်။

၃။ လှေကားများတွင် လှေကားထစ်တစ်ထစ်စီ၏အကျော့(Riser)သည်(၇)လက်မထက် မပိုစေရန်နှင့်လှေကားထစ်တိုင်း၏အနင်း (Tread)ကို (၁၀)လက်မနှင့်အထက်ရှိအောင် ဆောက်လုပ်ရန်။

၄။ လှေကားခွင်အတွင်း လေဝင်/လေထွက်ကောင်းမွန်စေရန် Mechanical Ventilation System တပ်ဆင်ရန်(သို့မဟုတ်) သဘာဝလေဝင်/လေထွက်ကောင်းမွန်စေရန် လှေကားခွင်အကာ နံရံဧရိယာ၏ အနည်းဆုံး (၁၅%)အား လေဝင်လေထွက်ပေါက် (Fixed Opening) တပ်ဆင်ပြုလုပ်ထားရှိရန်။

၅။ အရေးပေါ်ထွက်ပေါက် (Emergency Exit) သို့ လွတ်မြောက်ပေါက် (Escape Door) တိုင်းအား အနည်းဆုံး (၃¹/₂)ပေ အကျယ်နှင့် (၆¹/₂) ပေ အမြင့်ရှိအောင် ဆောက်လုပ်ရန်၊ Self-closing Device တပ်ဆင်၍ အပြင်ဖွင့်စနစ် ပြုလုပ်ထားရှိရန်နှင့် မီးလောင်မှုဒဏ် (၁)နာရီ ခံနိုင်သောတံခါး(Min: 1hr Fire Rated Door)တပ်ဆင်ရန်။

၆။ အရေးပေါ်လွတ်မြောက်မှုဆိုင်ရာလုပ်ငန်းများ (Means of Egress) အတွက် အောက်ပါစနစ်များ တပ်ဆင်ထားရှိရမည်-

(က) **အရေးပေါ်အသံနှင့်အမြင်ဆိုင်ရာအချက်ပေးစနစ် (Audio / Visual Advisory System)။** အဆောက်အဦတစ်ခုလုံးတွင်တပ်ဆင်ရမည်။

(ခ) **ထွက်ပေါက်နှင့်လွတ်မြောက်ပေါက်လမ်းညွှန် သင်္ကေတဆိုင်းဘုတ်များ (Exit & Indication Sign)။** အဆောက်အဦတစ်ခုလုံးတွင်တပ်ဆင်ရမည်။

(ဂ) **အရေးပေါ်သုံးမီးထွန်းစနစ် ( Emergency Lighting System with UPS back up)။** အထူးသဖြင့်လူသွားစင်္ကြံများနှင့်အရေးပေါ်လှေကားခွင်များအတွင်းတပ်ဆင်ရမည်။

(ဃ) **အရေးပေါ်သုံးလျှပ်စစ်ဓါတ်အားပေးစနစ် ( Emergency Generator) ။** အဆောက်အဦတစ်ခုလုံးအတွက် တပ်ဆင်ရမည်။

မီးဘေးလုံခြုံရေးဆိုင်ရာလုပ်ငန်းများ(Fire Safety)

၇။ မီးဘေးလုံခြုံရေးဆိုင်ရာလုပ်ငန်းများ (Fire Safety)အတွက် အောက်ပါစနစ်များ တပ်ဆင်ထားရှိ ရမည်-

(က) **မီးလှန့်အချက်ပေးစနစ်များ( Fire Alarm System)။** အဆောက်အဦတစ်ခုလုံးတွင် Drawing ၌ ဖော်ပြထားသည့်အတိုင်း တပ်ဆင်ထားရှိရမည်။

(ခ) **မီးထောက်လှမ်းရေးစနစ်များ(Fire Detection System)။** အဆောက်အဦ၏အထပ်တိုင်းတွင်အသုံးပြုသော လုပ်ငန်းသဘောသဘာဝပေါ်တွင်မူတည်၍ မီးခိုးထောက်လှမ်းမှုကိရိယာများ(Smoke Detectors) များအား Drawing တွင် ဖော်ပြထားသည့်အတိုင်း တပ်ဆင်ထားရှိရမည်။

(ဂ) **လက်ဖြင့်ကိုင်တွယ်အသုံးပြုနိုင်သော အပေါ့စားမီးသတ်ပစ္စည်းကိရိယာများ ( Portable Hand - Operated Approved Appliances)။** အဆောက်အဦ၏အထပ်တိုင်းတွင် ဖြစ်ပွားနိုင်သည့် မီးအတန်းအစားပေါ်မူတည်၍ လုံလောက်စွာ တပ်ဆင်ထားရှိရမည်။

(ဃ) **မီးသတ်ရေပက်ပိုက်ခွေ(Fire Hose Reel)။** အဆောက်အဦ၏အထပ်တိုင်းတွင် Drawing ၌ ဖော်ပြထားသည့်အတိုင်း တပ်ဆင်ထားရှိရမည်။ Hose Reel Main Pipe ၏အချင်း (၂)လက်မရှိရမည် ဖြစ်ပြီး GI (သို့) Black Steel ပိုက်များ ဖြစ်ရမည်။ Duty Pump နှင့် Standby Pump တို့ဖြင့် ချိတ်ဆက်ကာ အနည်းဆုံး flow rate 0.4 l/s, pressure 2.5 bar နှင့် 36 m coverage area ရရှိအောင် စီစဉ်ထားရှိရမည် ဖြစ်ပြီး ရေဂါလန် (၁၀၀၀)သိုလှောင် စီမံ ထားရှိရမည်။

(င) **ရေအသုံးမပြုသောမီးငြိမ်းသတ်ရေးစနစ်(Automatic Fixed Installation other than Water System)။** အဆောက်အဦ၏ ထိန်းချုပ်ခန်းများ၊ M & E ထိန်းချုပ်ခန်းများတွင် တပ်ဆင်ရမည်။

(စ) **လေဝင်/လေထွက်ထိန်းသိမ်းကွပ်ကဲမှုစနစ်( Ventilation Control System)။** အဆောက်အဦအတွင်းပိုင်းလျှောက်လမ်း(Internal Corridor)များနှင့် အဆောက်အဦအတွင်း လေဝင်လေထွက် ကောင်းမွန်စွာရရှိစေရန်Natural Ventilation System (သို့) Jet Fan Ventilation System သို့မဟုတ် Mechanical Ventilation System များကို မဖြစ်မနေ တပ်ဆင်ရမည်။

(ဆ) မီးဘေးလုံခြုံရေးထိန်းသိမ်းကွပ်ကဲသည့်အခန်း (Fire Control Center)။ အဆောက်အဦတွင် တပ်ဆင်ထားသော အရေးပေါ်လွတ်မြောက်မှုဆိုင်ရာစနစ်များ၊ မီးဘေးလုံခြုံရေး ဆိုင်ရာစနစ်များအား စုစည်းထိန်းသိမ်းကွပ်ကဲရန် အခန်းထားရှိရမည်။

(ဇ) မီးငြိမ်းသတ်ရန်ရေရရှိရေး(Water Supply for Fire Fighting)။ အနည်းဆုံးလိုအပ်ချက် ဖြစ်သည့် ( ပိုက်ခေါင်းရေထွက်နှုန်း 250 gpm x 1 x 60min ဖြင့်) ပိုက်ခေါင်း (၁)ခုအတွက် တစ်နာရီကြာမီးငြိမ်းသတ်နိုင်သော ရေပမာဏဂါလန်(၁၅၀၀၀)ကို သိုလှောင်စီမံထားရှိရန်။

အထွေထွေ

၈။ အရေးပေါ်လွတ်မြောက်မှုဆိုင်ရာလုပ်ငန်းများနှင့် မီးဘေးလုံခြုံရေးဆိုင်ရာလုပ်ငန်းများအတွက် တပ်ဆင်ရမည့်စနစ်များ တပ်ဆင်ရမည့်နေရာ၊ အရေအတွက်နှင့်စံချိန်စံညွှန်းများကို မီးသတ်ဦးစီးဌာနတွင် ရယူရမည်။

၉။ အရေးပေါ်လွတ်မြောက်မှုဆိုင်ရာ လုပ်ငန်းများနှင့် မီးဘေးလုံခြုံရေးဆိုင်ရာ လုပ်ငန်းများ အတွက် တပ်ဆင်ရမည့်စနစ်များပါရှိသည့် Drawing အား ရေးဆွဲထားရှိပြီး မီးသတ်ဦးစီးဌာန၏ အတည်ပြု ချက် ရယူရမည်။

၁၀။ အထပ်မြင့်အဆောက်အဦများ မီးဘေးလုံခြုံရေးအတွက် စစ်ဆေးအကြံပြုခြင်းဆိုင်ရာဝန်ဆောင်ခများကိုအဆောက်အဦ၏အထပ်အားလုံးရှိ ဧရိယာစတုရန်းမီတာပေါင်းအတွက် တစ်စတုရန်း မီတာလျှင် (၁၀၀၀ိ /–)နှုန်းပေးဆောင်ရန်။

၁၁။ တည်ဆောက်ဆဲကာလလုပ်ငန်းခွင် မီးဘေးလုံခြုံရေးဆောင်ရွက်ထားရှိရန်နှင့် မီးသတ်ဦးစီးဌာနမှ အခါအားလျော်စွာ စစ်ဆေးအကြံပြုချက်များကို လိုက်နာဆောင်ရွက်ရန်။

၁၂။ မီးဘေးလုံခြုံရေး အကြံပြုချက်တောင်းခံစာတွင် တင်ပြထားသည့်အတိုင်း ရပ်ရှင်ရုံ အဖြစ်သာ အသုံးပြုရန်နှင့်အခြားလုပ်ငန်းပြောင်းလဲပါကမီးသတ်ဦးစီးဌာနသို့တင်ပြ၍ မီးဘေးလုံခြုံရေး စစ်ဆေးအကြံပြုချက်ကို ပြန်လည်ပြောင်းခံရမည်။

PARADISO
CINEMAS

## မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်

### (၁) နိဒါန်း

Paradiso Cinemas Company Limited ၏ မြန်မာနိုင်ငံတစ်ဝှမ်းရှိမြို့ကြီးများတွင် ရုပ်ရှင်ရုံများ တည်ဆောက်၍ ဖွင့်လှစ်ပြသမည့် ရုပ်ရှင်ရုံများတွင် မီးဘေးအန္တရာယ်ဖြစ်ပေါ်ခြင်းမရှိစေရန်နှင့် မီးဘေး အန္တရာယ် ရင်ဆိုင်တွေ့ကြုံခဲ့ပါက ချက်ချင်းမီးငြိမ်းသတ်နိုင်ရန်အတွက် လိုအပ်သည့်ကြိုတင်ပြင်ဆင်မှုများ ပြုလုပ်နိုင်ရန် ဤစီမံချက်ကိုရေးဆွဲရခြင်းဖြစ်ပါသည်။

### (၂) ရည်ရွယ်ချက်

ဤစီမံချက်ရေးဆွဲခြင်းဖြင့် ကြုံတွေ့ရနိုင်သည့် မီးဘေးအန္တရာယ်ကို စနစ်တကျငြိမ်းသတ်နိုင်မည့် အပြင် ရုပ်ရှင်ကြည့်ပရိတ်သတ်များ ရုပ်ရှင်ရုံရှိ ရုံးဝန်ထမ်းများနှင့် ကုမ္ပဏီပိုင်ပစ္စည်းများ ထိခိုက်ဆုံးရှုံးမှု အနည်းဆုံးဖြစ်စေရန် ရည်ရွယ်သည့်အပြင်ရုပ်ရှင်ရုံများ ပတ်ဝန်းကျင်ရှိ ရပ်ကွက်နေပြည်သူလူထု၏ အသက်၊ အိုးအိမ်စည်းစိမ်းဥစ္စာများ ဆုံးရှုံးမှုများမရှိစေရန် ရည်ရွယ်ပါသည်။

### (၃) မီးလောင်မှုဖြစ်ပွားရခြင်း၏ အကြောင်းအရင်းများ

အောက်ဖော်ပြပါ အချက်များကြောင့် မီးလောင်ကျွမ်းမှုဖြစ်ပွားရခြင်းဖြစ်ပါသည်။

(က) မီးသုံးစွဲသူ၏ ပေါ့ဆမှုကြောင့် မီးလောင်းခြင်း။

(ခ) လျှပ်စစ်သုံးစွဲမှု ပစ္စည်းများ၊ အရည်အသွေးမမှီခြင်း နှင့် လျှပ်စစ်သွယ်တန်းသည့်ကြိုးများ၊ ခလုပ်များအရည်အသွေးမမှီခြင်းစနစ်မကျခြင်းတို့ကြောင့် မီးလောင်ခြင်း။

(ဂ) မသမာသူများ၏ ရှို့မီးဖြင့် မီးလောင်ခြင်း။

(ဃ) အခြားမီးလောင်ကျွမ်းသည့် အရပ်မှမီးကူးစက်လောင်ကျွမ်းခြင်း။

(င) ပေါက်ကွဲစေတတ်သည့် ပစ္စည်းများကြောင့် မီးလောင်ကျွမ်းခြင်း။

### (၄) ဆောင်ရွက်ရန်နည်းလမ်းများ

မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်တားဆီးရေးကို အောက်ပါအချက်များဖြင့် ဆောင်ရွက်မည်ဖြစ် ပြီး ထိုသို့ဆောင်ရွက်ခြင်းဖြင့် မီးလောင်မှုဖြစ်ပွားစေသောအကြောင်းများကိုလည်း တားဆီးနိုင်မည်ဖြစ်သည်။

(က) သက်ဆိုင်ရာ မြို့နယ်ဦးသတ်ဦးစီးဌာန၏ ကြီးကြပ်မှုဖြင့် ပညာပေးဟောပြောပွဲများ ပြုလုပ် ခြင်း၊ သင်တန်းပေးခြင်းများ စနစ်တကျပြုလုပ်ထားရန်။

(ခ) မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး နှင့် မီးငြိမ်းသတ်ရေးအဖွဲ့များဖွဲ့စည်းထားရန်။

(ဂ) သင့်လျော်သည့် ဝန်ထမ်းများအား ပီးသတ်ဆေးဗူး၊ မီးသတ်ရေပုံး၊ မီးသတ်သဲပုံး၊ မီးကပ်၊ မီးချိတ်အသုံးပြုနည်းတို့ကို လက်တွေ့သင်တန်းပေးပြသထားရန်။ (၃) လတစ်ခါ မွမ်းမံသင်တန်းပေးရန်။

(ဃ) မီးဖို၊ ဆေးလိပ်တိုကိုမှ မီးကြွင်းမီးကျန်တို့ကို ငြိမ်းသတ်ပြီးမှ စနစ်တကျစွန့်ပစ်ရန်။

(င) "မီးသတိပြု" "ဆေးလိပ်မသောက်ရ" "သင့်ကြောင့်မီးမလောင်ပါစေနှင့်" စသည့်မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးဆိုင်းဘုတ်၊ နံရံကပ်ပိုစတာများကို လိုအပ်သည့်နေရာများတွင် မြင်သာသလိုချိတ်ကပ်ထားရန်။

(စ) ဆေးလိပ်သောက်ရန် နေရာသီးသန့်သတ်မှတ်ထားပြီး ထိုနေရာအနီးတွင် မီးလောင်လွယ်သည့် ပစ္စည်းများမထားရန်။

(ဆ) မီးသတ်ဆေးဗူးများ ကောင်း/မကောင်းကို အနည်းဆုံး တစ်လလျှင်တစ်ကြိမ် စစ်ဆေးပြီး မှတ်တမ်းတင်ရန်၊ မီးသတ်ဆေးဗူးများအသုံးပြုနည်းကို မြန်မာဘာသာဖြင့် မီးသတ်ဗူးများအနီးတွင် ချိတ်ဆွဲထားရန်၊ မီးသတ်ဆေးဗူးများရှိသည့်နေရာများကို မြှားအညွှန်းပြသထားရန်။

(ဇ) လျှပ်စစ်ပစ္စည်းများနှင့် မီးကြိုးများကို စနစ်တကျအသုံးပြုရန် မီးကြိုးများပေါက်ပြဲမှု ရှိ၊ မရှိ တာဝန်ရှိသူများမှ နေ့စဉ်စစ်ဆေးရန်။

(ဈ) မီးဘေးအန္တရာယ်ကြုံတွေ့သည့်အခါ အလွယ်တကူပိတ်နိုင်ရန် လျှပ်စစ် MAIN SWITCH နှင့် FUSE များရှေ့တွင် ပိတ်ဆို့နေသည့် ပစ္စည်းများဖယ်ရှားထားရန်။

(ည) မီးခလုတ်များ၊ မီးကြိုးများအနီးတွင် ပိုးမျှင်၊ ပင့်ကူမျှင် စသည်တို့အပါအဝင် မီးလောင်နိုင်သည့် ပစ္စည်းများကိုရှင်းလင်းထားရန်၊ မလှမ်းမကမ်းတွင် လျှပ်စစ်နှင့် ဒီဇယ်များကို ငြိမ်းသတ်နိုင်သည့် မီးသတ်ဆေးဗူးများထားရှိရန်။

(ဋ) အလုပ်ပြီးသည့်အခါ မီးခလုတ်များကိုပိတ်ထားခဲ့ရန်။

(ဌ) မီးဘေးအန္တရာယ်အတွက် ဆက်သွယ်မှုပြုနိုင်ရန် အောက်ပါဖုန်းနံပါတ်များကို အများမြင်သာသည့်နေရာတွင် ထင်ရှားစွာရေးသားချိတ်ဆွဲထားရန်

၁။ မီးသတ်ဦးစီးဌာန (မြို့နယ်/တိုင်း)

၂။ ဆေးရုံ နှင့် ဒေသန္တရဆေးပေးခန်း

၃။ မြို့နယ်၊ တိုင်း ပြည်သူ့ရဲတပ်ဖွဲ့

(၃) အောက်ပါမီးသတ်ပစ္စည်းများကိုမြင်သာသည့်နေရာ၊ ယူရန်လွယ်ကူသည့်နေရာတွင်ထားရှိရန်-

(၁) မီးသတ်ဗူး (၅၀) လုံး

| | | |
|---|---|---|
| (၂) | သဲပုံး | (၁၀၀) လုံး |
| (၃) | မီးသက်ရေဆွဲပုံး | (၃၀) လုံး |
| (၄) | မီးကပ် | (၂၀) ခု |
| (၅) | မီးချိတ် | (၂၀) ခု |
| (၆) | ညအချိန်အသုံးပြုရန် လက်နှိပ်ဓါတ်မီး | (၁၀) ခု |
| (၇) | ပေါက်ဆိန် | (၅) ခု |
| (၈) | မီးသတ်ပိုက်ခေါင်းနှင့် မီးသတ်ပိုက် | (၂) စုံ |

မီးဘေးအန္တရာယ်သည် ရုံးချိန်အတွင်ဖြစ်ပေါ်ပါက ရုပ်ရှင်ရုံတွင် မန်နေဂျာ၊ လုံခြုံရေးမှူး၊ စီမံရေးရုံးသို့ သတင်းပို့ရန်၊ စီမံလ/ထမန်နေဂျာ၊ လုံခြုံရေးမှူး၊ စီမံရေးရုံးမှလည်း နီးစပ်ရာမီးသတ်စခန်းများ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်းများနှင့် အုပ်ချုပ်မှုဒါရိုက်တာ (Paradiso Cinemas Company Limited) အား အလျင်အမြန်အကြောင်းကြားရန်၊ Paradiso Cinemas Company Limited တွင် ဖွဲ့စည်းထားသော မီးငြိမ်းသတ်ရေးအဖွဲ့များကလည်း မိမိအဖွဲ့အလိုက် စနစ်တကျဆက်သွယ်ဆောင်ရွက်ကြရန်။

မီးဘေးအန္တရာယ်သည် ရုံးပြင်ပတွင်ဖြစ်ပေါ်ပါက မီးလှန့်သံချောင်းခေါက်ပြီး ရုပ်ရှင်ရုံမန်နေဂျာ၊ စီမံလ/ထမန်နေဂျာ၊တာဝန်မှူး၊ လုံခြုံရေးမှူး၊ လုံခြုံရေးမှူးတို့ကို သတင်းပို့အကြောင်းကြားရန်၊ စီမံမန်နေဂျာ၊ လုံခြုံရေးမှူး၊ အဆောင်နေဝန်ထမ်းများက နီးစပ်ရာမီးသတ်စခန်းများနှင့် အုပ်ချုပ်ရေးမှူးဒါရိုက်တာအား အကြောင်းကြားရန်၊ လောလောဆယ်ကျရောက်နေသည့် မီးဘေးအန္တရာယ်အား တာဝန်ကျလုံခြုံရေးများ၊ အဆောင်နေဝန်ထမ်းများက ဟန့်တားကာကွယ်ထားရန်။

## (၅) <u>အဖွဲ့များဖွဲ့စည်းခြင်း</u>

မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် အုပ်ချုပ်မှုဒါရိုက်တာ၊ အထွေထွေမန်နေဂျာတို့၏ လမ်းညွှန်မှုဖြင့် စီမံမနေဂျာမှ ရုံးချုပ်အပါအဝင် ရုပ်ရှင်ရုံတိုင်းအတွက် ကြီးကြပ်မီးငြိမ်းသတ်ရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ ကယ်ဆယ်ရေး နှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့တို့ကို ပူးတွဲအမည်စာရင်းအတိုင်း ဖွဲ့စည်းထားရှိရန်။

မီးငြိမ်းသတ်ရေးအဖွဲ့၏ တာဝန်ဝတ္တရားများ

(က) မီးသတ်ဗူး၊ မီးကပ်၊ မီးချိတ်၊ သဲပုံး၊ လျှပ်စစ်မီးခလုတ်၊ ပင်မမီးခလုတ်ရှိသည့်နေရာများကိုသိရှိအောင် ကြိုတင်လေ့လာထားရမည်။

(ခ) မီးသတ်ဗူး၊ မီးကပ်၊ မီးချိတ်၊ သဲပုံးတို့ကိုလိုအပ်လျှင် အသုံးပြုတတ်အောင်လေ့ကျင့်ထားရမည်။

(ဂ) မီးလောင်သည့်နေရာနှင့် အနီးစပ်ဆုံးတွင်ရှိသည့် မီးငြိမ်းသတ်ရေးအဖွဲ့ဝင်များက မီးတောက်ကြီး မလာမီ အမြန်ဆုံးတတ်ညီလက်ညီစနစ်တကျ မီးငြိမ်းသတ်ရမည်။ ကျန်မီးငြိမ်းသတ်ရေးအဖွဲ့ဝင်များ က အခြားနေရာများရှိမီးသတ်ဆေးဗူးများ၊ မီးချိတ်၊ သဲပုံးများသယ်ယူလာပြီး မီးငြိမ်းသတ်ရမည်။

(ဃ) မီးဘေးအန္တရာယ်လာရောက်ပါက လျှပ်စစ် FUSEI ပင်မခလုတ်များကို ချက်ချင်းပိတ်ရမည်။

(င) ရုပ်ရှင်ရုံပိုင်းတွင် ရုပ်ရှင်ကြည့်ပရိတ်သတ်များစနစ်တကျထွက်ခွာနိုင်ရန် ရုပ်ရှင်ရုံကြမ်းခင်းတွင် ထွက်ပေါက်လမ်းကြောင်းအလိုက်ဆေးများဖြင့် ရေးဆွဲထားရန်နှင့် Exits Plam အားနေရာစုံမြင်သာအောင်ကပ်ထားရမည်။

(၆) <u>လုံခြုံရေးအဖွဲ့၏ တာဝန်ဝတ္တရားများ</u>

(က) မီးဘေးအန္တရာယ် ကျရောက်နေလျှင် ဝန်ထမ်းများ ဘေးအန္တရာယ်ကင်းရှင်းရေး၊ လုပ်ငန်းပိုင်ပစ္စည်းများ လုံခြုံမှုရရှိရေးတို့ကို ဆောင်ရွက်ရန်။

(ခ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြား ကုမ္ပဏီပိုင်စာရွက်စာတမ်းပစ္စည်းများကို ဦးစားပေးအဆင့်အလိုက် မီးလောင်ကျွမ်းမှုမရှိစေရန် ကင်းနေရာသို့ ရွှေ့ပြောင်းပြီးပါက လုံခြုံရေးအဖွဲ့ဝင်များက လုံခြုံမှုကိုတာဝန်ယူရန်။

(ဂ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် လုံခြုံရေးတပ်ဖွဲ့ဝင်များ ရောက်ရှိလာသည့်အခါ ပူးပေါင်းအကူအညီပေးရန်။

(ဃ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကုမ္ပဏီရုံးခန်းအတွင်းသို့ တာဝန်ရှိသူများ၊ တပ်ဖွဲ့ဝင်များကိုသာ ဝင်ခွင့်ပြုရန်၊ အခြားမည်သူ့ကိုမျှ ဝင်ခွင့်မပြုရန်၊ မလိုလျှင် တံခါးမကြီးအားသော့ခတ်လိုက်ရန်။

(င) မီးဘေးအန္တရာယ်ကျော်လွန်ပြီးနောက် ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြား စာရွက်စာတမ်း၊ ပစ္စည်းများကို သက်ဆိုင်သူများထံ စနစ်တကျပြန်လည်အပ်နှံရမည်။

(၇) <u>ကယ်ဆယ်ရေးနှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့</u>

(က) ကုမ္ပဏီပိုင်ငွေကြေးများ၊ အဖိုးတန်ပစ္စည်းများ၊ အခြားအရေးကြီးစာရွက်စာတမ်း၊ ပစ္စည်းများကို ဦးစားပေးအဆင့်အလိုက် မီးဘေးအန္တရာယ်ကင်းရှင်းပြီး လုံခြုံမှုရှိသည့်နေရာသို့ အလျင်အမြန် ရွှေ့ပြောင်းပေးရန်။ လိုအပ်ပါက ဒေသရှိမော်တော်ယာဉ်များကို တာဝန်ရှိသူထံတောင်းဆိုလျက် ပစ္စည်းများရွှေ့ပြောင်းရမည်။

(ခ) သယ်ယူပြောင်းရွှေ့လာသောငွေကြေးပစ္စည်းများကို လုံခြုံရေးအဖွဲ့ဝင်များနှင့် ညှိနှိုင်းပြီးလုံခြုံသည့် နေရာအားသတ်မှတ်ရန်။

(ဂ) မီးဘေးအန္တရာယ်လွတ်ကင်းရာသို့ သယ်ယူရွှေ့ပြောင်းရာတွင် ငွေကြေးပစ္စည်းများကို ဆုံးရှုံးပျက်စီးမှု မရှိအောင် အလေအလွင့်မရှိအောင် အထူးဂရုစိုက်ရမည်။

(ဃ) မီးဘေးအန္တရာယ်ကျရောက်နေစဉ်အတွင်း ဒဏ်ရာအနာတရဖြစ်သူများအား လိုအပ်သည့်နေရာသို့ ပို့ဆောင်ရွှေ့ပြောင်းပေးရန်။ ကုမ္ပဏီပိုင်မော်တော်ယာဉ် ယာဉ်မောင်းများနှင့် ညှိနှိုင်းဆောင်ရွက်ရန်။

(င) ဝန်ထမ်းများ ဒဏ်ရာအနာတရမဖြစ်စေရန်နှင့် ဒဏ်ရာရရှိပါက ကုသမှုပြုနိုင်ရန် ဆေးရုံဆရာဝန်၊ သူနာပြုတို့နှင့် ညှိနှိုင်းဆောင်ရွက်ရန်။

(စ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကျန်းမာရေးမကောင်းသူ၊ မသန်စွမ်းသူများအား မီးဘေးအန္တရာယ်မှ လွတ်မြောက်စေရန် ကူညီဆောင်ရွက်ပေးရန်။

(၈) <u>စီမံခန့်ခွဲမှု</u>

မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးနှင့် မီးဘေးအန္တရာယ် ကျရောက်နေစဉ် မီးငြိမ်းသတ်ရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ ကယ်ဆယ်ရေး နှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့များသည် လုပ်ငန်းရုံးချုပ်၏ အုပ်ချုပ်မှုဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ စီမံမန်နေဂျာ၊ ဌာနကြီးမှူးများ၊ လုံခြုံရေးမှူး၊ စီမံရေးလက်ထောက်များ၏ စီမံခန့်ခွဲမှုအတိုင်းဆောင်ရွက်ရန် နှင့် ဒေသဆိုင်ရာမြို့နယ်/တိုင်းမီးသတ်ဦးစီးဌာနတို့၏အရေးပေါ်စီမံကွပ်ကဲမှုကိုလည်း ပူးပေါင်း၍လိုက်နာဆောင်ရွက်ရန်။

(၉) <u>နိဂုံး</u>

မီးဘေးအန္တရာယ်ကြောင့် ကြုံတွေ့ရမည့် ငွေကြေး၊ အိုးအိမ်၊ စည်းစိမ်၊ ဥစ္စာပစ္စည်းများနှင့် လူ့အသက်များ ပျက်စီးဆုံးရှုံးမှုများမှ ဤမီးဘေးအန္တရာယ်တားဆီးကာကွယ်ရေးစီမံချက်ကြောင့် ထိခိုက်မှုအနည်းဆုံး၊ ပျက်စီးဆုံးရှုံးမှုအနည်းဆုံးရရှိခံစားနိုင်မည်ဖြစ်ပါသည်။

အတည်ပြုမှတ်တမ်းတင်သူ

U Tin Maung Win

Managing Director/CEO

Paradiso Cinemas Co.,Ltd

PARADISO
CINEMAS

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် ( ၁ )၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့

စာအမှတ် ။ PCCL/MIC/2016-17/
ရက်စွဲ ။ 25 OCT 2016

အကြောင်းအရာ။ ။ **လူမှုစီးပွားရေးဖွံ့ဖြိုးတိုးတက်စေရန် လူမှုရေးတာဝန်ယူမှုပေါင်းဆောင်ရွက်ပေး (CSR) အတွက်ကတိခံဝန်ချက်တင်ပြခြင်းကိစ္စ။**

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ Paradiso Cinermas Co.,Ltd သည် မြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ အကွက် **အမှတ် (၅၈၇)၊ ရွာသစ်ကွင်း၊ ဦးပိုင်အမှတ် (၆/၃)ရှိ မြေဧက (၀. ၉၂)တွင် မြန်မာနိုင်ငံဥပဒေနှင့် နိုင်ငံခြား** သားဖက်စပ်ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ ရုပ်ရှင်လုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် ထိုင်ခုံ (၃၁၆)ခုံပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁)ရုံတည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုပါသဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက် ပြင်ပြထားသည့် ကုမ္ပဏီတစ်ခုဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန် ခွင့်ပြုမိန့်ရရှိခဲ့ပြီး လုပ်ငန်းဆောင်ရွက်လုပ်ကိုင်ဆောင်ရွက်မည်ဆိုပါက လုပ်ငန်း၏အဓိကမောင်းနှင်အား ဖြစ်သည့် ကုမ္ပဏီ၏ဝန်ထမ်းများနှင့် အလုပ်သမားများအပါအဝင် လုပ်ငန်းလုပ်ကိုင်ဒေသနှင့် ပတ်ဝန်းကျင် ရှိလူပုဂ္ဂိုလ်များအားလုံးတို့၏ အထွေထွေလူမှုစီးပွားဖွံ့ဖြိုးတိုးတက်စေရန်အတွက် “လူမှုရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှု” (CorporateSocial Responsiblility) ကျင့်စဉ်များနှင့်အညီဆောင်ရွက်နိုင်ရန် ကုမ္ပဏီ၏ **နှစ်စဉ်ရရှိသောအမြတ်ငွေ မှ (၂%)အား** “လူမှုရေးတာဝန်ယူမှုပေါင်းဆောင်ရွက်မှုရန်ပုံငွေ” အဖြစ်ထူ **ထောင်ထားရှိသွားမည်ဖြစ်ပါသည်။**

o.20, Pearl Street, Golden Valley Avenue, Bahan Township, Yangon, Myanmar
Tel: 95-1-549478, 95-1-541411, 95-1-541167

"လူမှုရေးတာဝန်ယူပူးပေါင်းဆောင်ရွက်မှုရန်ပုံငွေ"မှ အောက်ဖော်ပြပါလုပ်ငန်းများအတွက် အကျိုးရှိစွာ ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(၁) ဒေသရှိကျောင်းသားလူငယ်များတွက် ပညာရေးကူညီထောက်ပံ့ခြင်းအတွက် ၂၀%

(၂) ဒေသရှိပြည်သူများ ကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်းအတွက် ၂၀%

(၃) ဒေသ၏လမ်းပန်းဆက်သွယ်ရေးနှင့် စည်ပင်တိုးတက်ရေးအတွက် ၂၀%

(၄) ဝန်ထမ်းများစွမ်းဆောင်ရည်မြင့်မားရန်အတွက် သင်တန်းများစီစဉ်ပေးခြင်းအတွက် ၂၀%

(၅) အခြားလုပ်ငန်းများတအတွက် အမြဲတမ်းထားရှိမည့်စုဆောင်းရန်ပုံငွေအတွက် ၂၀%

Paradiso Cinemas Co.,Ltd အနေဖြင့် အများပြည်သူများအပန်းဖြေရန်ရည်ရွယ်၍ ဖွင့်လှစ်ပြသနေသော ရုပ်ရှင်ရုံတစ်ခုချင်းစီတွင်လည်း လူမှုရေးတာဝန်ယူအကောင်အထည်ဖော်မှု စီမံချက်လုပ်ရှားမှု (CSR Activities) အနေဖြင့်အောက်ဖော်ပြပါအတိုင်း စီမံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) ရုပ်ရှင်ရုံတည်ရှိရာ ခြံဝန်းအတွင်းအများပြည်သူများရုပ်ရှင်မကြည့်မှီအနားယူနိုင်ရန် ဥယျာဉ်ငယ်ကစ်ခုကဲ့သို့ မြက်ခင်းများ၊ ထိုင်ခုံတန်းများ၊ အရိပ်ရသစ်ပင်ကြီးများစီစဉ်ဆောင်ရွက်ထားမည်ဖြစ်ပါသည်။

(၂) ရုပ်ရှင်ရုံတည်ရှိရာ ခြံဝန်းအတွင်း စရိတ်သင့်တင့်မျှတည်သည့် စားသောက်ဆိုင်ဟစ်ခုဖွင့်လှစ်ထားရှိမည့်အပြင် ယင်းနှင့် တစ်ဆက်တည်းတွင်အများပြည်သူများ ရုပ်ရှင်မကြည့်မှီစောင့်ဆိုင်းနေသည့် အချိန်၌ စာပေဗဟုသုတရရှိစေခြင်းအလို့ငှာ စာကြည့်တိုက်ငယ်တစ်ခုတည်ထောင်၍ ပြည်သူများစာဖတ်ခြင်းအလေ့အထရရှိလာစေရန် ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(၃) ရုပ်ရှင်ရုံတွင်နေ့စဉ်လာရောက်၍ အပန်းဖြေရင်းရုပ်ရှင်ကြည့်ရှုသည့် အများပြည့်သူပရိတ်သတ်များအတွက် ရုပ်တရက်ကျန်းမာရေးချို့ယွင်းမှု ကိစ္စရပ်များ ပေါ်ပေါက်လာပါက အရေးပေါ်ကုသနိုင်ရန် "ရှေးဦးသူနာပြုအခန်း (Frist Aid Room)" ထားရှိဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၄) ရုပ်ရှင်ရုံခြံဝန်းအတွင်း၌ ရုပ်ရှင်ကြည့်ပရိတ်သတ်များထဲမှ ကလေးငယ်များပါရှိလာပါက ရုပ်ရှင်မကြည့်မှီဆော့ကစားနိုင်ရန် ခေတ်မှီကလေးကစားကွင်းငယ်တစ်ခုထားရှိဆောင်ရွက်ထားမည်ဖြစ်ပါသည်။

(၅) မြို့ကြီးများတွင် ဖွင့်လှစ်မည့် ရုပ်ရှင်ရုံများတွင်အများပြည်သူများခေတ်မှီဆက်သွယ်ရေးယဉ်ကျေးမှုတွင်ပါဝင်စေရန် အင်တာနက် (Wifi) ထုတ်လွှင့်ရန်စီစဉ်ဆောင်ရွက်မည်ဖြစ်ပါသည်။

အထက်ပါအတိုင်း (CSR Plan) များရုပ်ရှင်ရုံအတွင်ထားရှိမည့်အပြင်နှစ်စဉ်ကုမ္ပဏီဆောင်ရွက်မှုကြောင့် ရရှိလာမည့် အမြတ်ငွေများထဲမှ မြန်မာနိုင်ငံရုပ်ရှင်အစည်းအရုံးအပါအဝင် ရုပ်ရှင်သက်ကြီးရွယ်အိုများစောင့်ရှောက်ရန်အတွက် ဒါရိုက်တာအဖွဲ့၏ သဘောတူချက်ဖြင့် ငွေကြေးများလှူဒါန်းရန် စီစဉ်

